ကုမ္ပဏီအမည် - သံလွင်ပညာရေးဝန်ဆောင်မှုကုမ္ပဏီလီမိတက်

လုပ်ငန်း - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် သံလွင်ပုဂ္ဂလိကအခြေခံပညာအထက်တန်းကျောင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၃၀-၁၂-၂၀၁၆ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၂/၂၀၁၇ သို့တင်ပြခြင်း | ၉-၁-၂၀၁၇ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ပေးပို့ခြင်း | ၁၇-၁-၂၀၁၇ | | |
| ၄ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၀-၁-၂၀၁၇ | ၁၄-၂-၂၀၁၇ | |
| | (ခ) ပညာရေးဝန်ကြီးဌာန | ၂၀-၁-၂၀၁၇ | ၁၃-၂-၂၀၁၇ | |
| | (ဂ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | ၂၀-၁-၂၀၁၇ | ၃၀-၁-၂၀၁၇ | |
| | (ဃ) ဆောက်လုပ်ရေးဝန်ကြီးဌာန | ၂၀-၁-၂၀၁၇ | ၁၇-၂-၂၀၁၇ | |
| ၅ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များအရ ပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၂၁-၂-၂၀၁၇ | | |
| ၆ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၂၈-၂-၂၀၁၇ | | |
| ၇ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း(၅/၂၀၁၇) MIC | ၁၃-၃-၂၀၁၇ | | |
| | စုစုပေါင်းကြာမြင့်ရက် ၇၃ ရက် | | | |

| | |
|---|---|
| ကုမ္ပဏီအမည် | သံလွင် ပညာရေးဝန်ဆောင်မှု ကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဍာန် | မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | သံလွင်ပုဂ္ဂလိကအခြေခံပညာအထက်တန်းကျောင်းလုပ်ငန်း |
| တည်နေရာ | ရန်ကုန်တိုင်းဒေသကြီး၊မင်္ဂလာဒုံမြို့နယ်၊ကုံ့ကော်ရိပ်သာ-၂ရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ်-၃၊ မြေကွက်အမှတ် ၁၈၃ မှ ၂၀၂ ရှိ မြေဧရိယာ ၂.၄၀၄ ဧကနှင့် မြေကွက်အမှတ် ၂၀၃ မှ ၂၄၂၊ ၂၄၃ ရှိ မြေဧရိယာ ၉.၃၄ ဧက စုစုပေါင်း မြေဧရိယာ ၁၁.၇၄၄ ဧက |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | ကျပ် ၁၉,၅၀၁.၇၇ သန်း |
| အရင်းကြေကာလ | ၅ နှစ် ၁၁ လ |
| IRR | ၂၀.၅၀ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ **Cost &Benefit** ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀သန်း(တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၀.၅၀ သန်း |
| ၃ | သွင်းကုန်အခွန်<br>ကင်းလွတ်ခွင့် | ကျပ် ၀.၀၅ သန်း | - |
| ၄ | ဝင်ငွေခွန် | ကျပ် ၄,၀၉၈.၃၃ သန်း | ကျပ် ၂၀,၃၆၇.၆၂ သန်း |
| ၅ | လျှပ်စစ်မီးသုံးစွဲခ | - | - |
| ၆ | လုပ်ခလစာအပေါ်<br>ဝင်ငွေခွန် | - | ကျပ် ၄.၀၄ သန်း<br>တစ်နှစ်ဝင်ငွေကျပ် (၄၈) သိန်းကျော်ပါက အခွန်ပေးရမည့် ဝန်ထမ်း (၁၂၀) ဦး |
| ၇ | CSR(၂%) | - | ကျပ် ၁.၆၀ သန်း |
| ၈ | မြေငှားရမ်းခငွေ | - | - |
| ၉ | အလုပ်အကိုင်<br>အခွင့်အလမ်း | - | ပြည်တွင်းလုပ်သား (၂၁၂)ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၄,၁၀၁.၃၈ သန်း | ကျပ် ၂၀,၃၇၃.၇၆ သန်း |
| | | ၁ း ၅ | |

မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် သံလွင် ပညာရေးဝန်ဆောင်မှု ကုမ္ပဏီလီမိတက်မှ
သံလွင်ပုဂ္ဂလိက အခြေခံပညာအထက်တန်းကျောင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန်
အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍ PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်မှု

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်း အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက် ပြီးစီးမှု | မှတ် ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | သံလွင်ပညာရေး ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် | သံလွင်ပုဂ္ဂလိက အခြေခံပညာ အထက်တန်း ကျောင်း | ၂/၂၀၁၇ ၉-၁-၂၀၁၇ | (က) လုပ်ငန်းအမျိုးအစား နှင့်မြေငှားစာချုပ် ပြင်ဆင်တင်ပြရန် | ပြင်ဆင်ပြီး | |
| | | | | (ခ) ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများအား ဈေးနှုန်း၊ တန်ဖိုး၊ အရေအတွက်တို့ကို ပြန်လည်စိစစ်၍ ပြင်ဆင်တင်ပြရန် | ပြင်ဆင်ပြီး | |
| | | | | (ဂ) မြေဂရန်ရရှိရန် ဆောင်ရွက်ထားမှု အခြေအနေတင်ပြရန် | လျှောက်ထားဆဲ | |

# မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် သံလွင် ပညာရေးဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Than Lwin Education Services Company Limited) မှ သံလွင်ပုဂ္ဂလိက အခြေခံပညာ အထက်တန်းကျောင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - သံလွင် ပညာရေးဝန်ဆောင်မှု ကုမ္ပဏီလီမိတက်<br>- (Than Lwin Education Services Company Limited) |
| ၂။ | လုပ်ငန်းအဆိုပြုသူအမည် | - ဦးတိုးနိုင်မန်း (အဘ-ဦးရွှေမန်း)<br>- မန်နေဂျင်းဒါရိုက်တာ |
| ၃။ | ရင်းနှီးမြှုပ်နှံမှုပုံစံ | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| ၄။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - သံလွင်ပုဂ္ဂလိက အခြေခံပညာအထက်တန်းကျောင်းလုပ်ငန်း |
| ၅။ | လုပ်ငန်းနေရာ | - ရန်ကုန်တိုင်းဒေသကြီး၊မင်္ဂလာဒုံမြို့နယ်၊ကုံ့ကော်ရိပ်သာ-၂ရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ်-၃၊ မြေကွက်အမှတ် ၁၈၃ မှ ၂၀၂ ရှိ မြေဧရိယာ ၂.၄၀၄ ဧကနှင့် မြေကွက်အမှတ် ၂၀၃ မှ ၂၄၂၊ ၂၄၃ ရှိ မြေဧရိယာ ၉.၃၄ ဧက စုစုပေါင်း မြေဧရိယာ ၁၁.၇၄၄ ဧက |
| | မြေအကျယ်အဝန်း | - (၁၁.၇၄၄) ဧက |
| | မြေပိုင်ရှင် | - ဦးခင်ရွှေ၊ ဦးတိုးနိုင်မန်း |
| ၆။ | စုစုပေါင်းမတည်ငွေရင်း | - စုစုပေါင်း ကျပ် ၁၉,၅၀၁.၇၇ သန်း (အမေရိကန်ဒေါ်လာ ၁၀.၈၆ သန်း အပါအဝင်) |

| - ငွေပမာဏ | ကျပ် (သန်း) | US$ (သန်း) | စုစုပေါင်း ကျပ်(သန်း) |
|---|---|---|---|
| - စက်ပစ္စည်းကိရိယာများ | ၅၀၀.၀၀ | - | ၅၀၀.၀၀ |
| - တည်ဆောက်ရေးသုံး ပစ္စည်းများ | - | ၀.၀၂ | ၂၈.၃၅ |
| - ပရိဘောဂနှင့်လုပ်ငန်းသုံး ပစ္စည်းများ | ၃,၅၂၅.၀၃ | ၂.၈၄ | ၇,၃၆၀.၅၆ |
| - မော်တော်ကားများ | ၈၀၇.၅၉ | - | ၈၀၇.၅၉ |
| | - | ၈.၀၀ | ၁၀,၈၀၅.၂၇ |
| စုစုပေါင်း | ၄,၈၃၂.၆၂ | ၁၀.၈၆ | ၁၉,၅၀၁.၇၇ |

| | | |
|---|---|---|
| ၇။ | တည်ဆောက်ရေးကာလ | - ၂နှစ် |
| ၈။ | ဝန်ဆောင်မှု (ဆဋ္ဌမမြောက်နှစ်) | |

| | | အခန်း အရေအတွက် | ကျောင်းသား ဦးရေ (တစ်ခန်းလျှင်) | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | မူကြို | ၅ | ၄၀ | ၁၅၀,၀၀၀ |
| (ခ) | မူလတန်း | ၄၀ | ၄၀ | ၁၅၀,၀၀၀ |
| (ဂ) | အလယ်တန်း | ၄၀ | ၄၀ | ၁၅၀,၀၀၀ |
| (ဃ) | အထက်တန်း | ၂၈ | ၄၀ | ၁၅၀,၀၀၀ |

| | | |
|---|---|---|
| ၉။ | ကုမ္ပဏီ၏(ဆဋ္ဌမနှစ်) ဝင်ငွေ<br>အသုံးစရိတ်<br>အသားတင်အမြတ် | - ကျပ် ၁၄,၈၀၆.၈၀ သန်း<br>- ကျပ် ၉,၅၉၁.၂၃ သန်း<br>- ကျပ် ၅,၂၁၅.၅၇ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်<br>အကျိုးအမြတ်(ဆဋ္ဌမနှစ်)<br>ဝင်ငွေခွန် | - ကျပ် ၁,၇၃၈.၅၂ သန်း |
| ၁၁။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br>ပြည်ပ | - ၂၀၂ ဦး<br>၂၀၂ ဦး (တစ်လလျှင် ပြည်တွင်းလုပ်သားတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀၊ အမြင့် ဆုံးလစာမှာ ကျပ် ၁,၅၀၀၀,၀၀၀ ဖြစ်ပါသည်။)<br>- မရှိပါ။ |
| ၁၂။ | အရင်းကြေကာလ | - ၅ နှစ် ၁၁ လ |
| ၁၃။ | အရင်းအနှီးပေါ် အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း (IRR) | - ၂၀.၅၀ % |
| ၁၄။ | ငွေကြေးအထောက်အထား | - Than Lwin Education Services Co., Ltd.အမည်ဖြင့် United Amara Bank Limited(မြောက်ဥက္ကလာပဘဏ်ခွဲ)၌ ၁၂-၁-၂၀၁၇ ရက်စွဲဖြင့် ကျပ် ၅၀၃,၄၇၇,၅၀၀ ရှိကြောင်းတင်ပြထားပါသည်။ |
| ၁၅။ | ကုမ္ပဏီမှ ဆောင်ရွက်မည့် CSR | - အသားတင်အမြတ်ငွေ၏ ၂ %၊ အသုံးပြုသွားမည် ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၆။ | မီးဘေးကာကွယ်ထားရှိမှု<br>အစီအစဉ် | - မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးစီမံချက်ရေးဆွဲ တင်ပြထားပါသည်။ |
| ၁၇။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၃၁၅ kVA နှင့် နိုင်ငံတော်မှ ဖြန့်ဖြူးသည့်လျှပ်စစ်ဓါတ်အား မရရှိသောအချိန်တွင် ကိုယ်ပိုင်မီးစက်ထားရှိ၍ ဆောင်ရွက်မည်ဖြစ်ပါသည်။ |
| ၁၈။ | သဘာဝပတ်ဝန်းကျင်ထိန်းသိမ်း<br>ရေးအစီအစဉ် | - သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ပြဌာန်းထားသော သတ်မှတ်ချက်များအား လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းနှင့် သဘာဝပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်ကို တင်ပြမည်ဖြစ်ပါသည်။ |
| ၁၉။ | မြေငှားစာချုပ်ပါအဓိက<br>အချက်များ | (က) အဆိုပြုချက်နှင့်အတူ မြေဧရိယာ ၉.၃၄ ဧက အတွက် Than Lwin Education Services Co., Ltd. မှ ဒါရိုက်တာ ဦးမျိုးဝင်းညွန့် နှင့် မြေပိုင်ရှင် ဦးတိုးနိုင်မန်းတို့ ချုပ်ဆိုမည့် (၃၀) နှစ် သက်တမ်းရှိ မြေငှားရမ်းခြင်းစာချုပ် (မူကြမ်း)နှင့် မြေပိုင်ဆိုင်မှု အထောက်အထားများကို တင်ပြထားပြီး |

| | | |
|---|---|---|
| | | မြေငှားရမ်းခနှုန်းမှာ တစ်နှစ်လျှင် ကျပ် ၁၇၈.၅၉ သန်း (တစ်စတုရန်းမီတာလျှင် တစ်နှစ် ကျပ် ၄,၇၂၅) ဖြစ်ကြောင်း တင်ပြထားပါသည်။ ထို့အတူ မြေဧရိယာ ၂.၄၀၄ ဧက အတွက် Than Lwin Education Services Co., Ltd. မှ ဒါရိုက်တာ ဦးမျိုးဝင်းညွန့်နှင့် မြေပိုင်ရှင်ဦးခင်ရွှေတို့ ချုပ်ဆိုမည့် ၃၀ နှစ် သက်တမ်းရှိ မြေငှားရမ်းခြင်းစာချုပ် (မူကြမ်း)၊ မြေပိုင်ဆိုင်မှု အထောက်အထားများကို တင်ပြထားပြီး မြေငှားရမ်းခနှုန်းမှာ တစ်နှစ်လျှင် ကျပ် ၄၅.၉၇ သန်း (တစ်စတုရန်း မီတာလျှင် တစ်နှစ် ကျပ် ၄,၇၂၅) ဖြစ်ကြောင်း တင်ပြထားပါသည်။<br>(ခ) မြေငှားရမ်းကာလမှာ နှစ်ပေါင်း (၃၀)ဖြစ်၍ ဆက်လက်ငှားရမ်းလုပ်ကိုင်ဆောင်ရွက်လိုပါက နောက်ထပ်တစ်ကြိမ်လျှင် (၁၀)နှစ်စီဖြင့် (၂)ကြိမ် ဆက်လက်ငှားရမ်း ဆောင်ရွက်ခွင့်ရှိပါသည်။ |
| ၂၀။ | စိစစ်တင်ပြချက် | (က) မြေပိုင်ဆိုင်မှုနှင့် ပတ်သက်၍ (၆-၁-၂၀၁၅) ရက်စွဲဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဇေကမ္ဘာ ကုမ္ပဏီလီမိတက်နှင့် ဦးတိုးနိုင်မန်းတို့အား ထုတ်ပေးထားသည့် (၃)နှစ် သက်တမ်းရှိ ဆောက်လုပ်နေထိုင်ခွင့်လက်မှတ်များကို တင်ပြထားပါသည်။<br>(ခ) ကုမ္ပဏီမှ မူလအဆိုပြုချက်ပါ မြေဧရိယာ (၁၀.၆၆၉) ဧကအား (၁.၀၇၅)ဧက ထပ်မံတိုးချဲ့၍ စုစုပေါင်း မြေဧရိယာ (၁၁.၇၄၄) ဧကတွင် အဆိုပြုလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>(ဂ) ကုမ္ပဏီသည် စာသင်ခန်းပေါင်း (၁၁၃) ခန်း ပါဝင်သော သုံးထပ်ကျောင်းဆောင်နှင့် နှစ်ထပ်ကျောင်းဆောင်များ ဆောက်လုပ်မည့် ကျောင်းအဆောက်အဦနှင့် ဒီဇိုင်းတို့အား တင်ပြထားပါသည်။<br>(ဃ) ကုမ္ပဏီမှ ပညာရေးဝန်ကြီးဌာနမှ သတ်မှတ်သော အခြေခံပညာ သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာများပါ ဘာသာရပ်များအတိုင်း လေ့ကျင့်သင်ကြားပေးမည် ဖြစ်ကြောင်းနှင့် ကိုယ်ပိုင်ကျောင်းမှတ်ပုံတင်ဥပဒေ၊ ကိုယ်ပိုင်ကျောင်းမှတ်ပုံတင်နည်းဥပဒေတို့ နှင့်အညီ လိုက်နာ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>(င) ပညာရေးဝန်ကြီးဌာနသို့ ပုဂ္ဂလိက ကိုယ်ပိုင်ကျောင်းလိုင်စင် |

လျှောက်ထားဆောင်ရွက်ရမည်ဖြစ်ပါသည်။

(ဝ) ကုမ္ပဏီ၏ဝင်ငွေ၊ နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ်နှင့် အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်းတို့မှာ ကုမ္ပဏီ၏ တင်ပြချက်အရ ဖော်ပြထားခြင်းသာ ဖြစ်ပါသည်။

(ဆ) ပြည်ပမှ အောက်ဖော်ပြပါ အမေရိကန်ဒေါ်လာ (၈.၀၀) သန်း တန်ဖိုးရှိ လူစီးမော်တော်ယာဉ်များနှင့် အမေရိကန် ဒေါ်လာ (၂.၈၆) သန်း တန်ဖိုးရှိ လုပ်ငန်းသုံးပစ္စည်းများတင်သွင်းဆောင်ရွက်မည်ဖြစ်ပြီး လူစီးမော်တော်ယာဉ်များအား အခွန်ပေးဆောင် တင်သွင်းရမည်ဖြစ်ပါသည်-

| No | Description | Model | Qty | Unit Cost US$ | Amount US$ |
|---|---|---|---|---|---|
| 1 | Hiace(High Roof) | 2016 | 100 | 34,000 | 3,400,000 |
| 2 | H 1 | 2016 | 100 | 27,600 | 2,760,000 |
| 3 | Fuso | 2016 | 50 | 22,000 | 1,100,000 |
| 4 | M 6 | 2016 | 2 | 37,000 | 74,000 |
| 5 | Hilux Revo (Double Cab) 4*4 | 2016 | 2 | 48,000 | 96,000 |
| 6 | Hilux Revo (Double Cab) 2*2 | 2016 | 3 | 46,000 | 138,000 |
| 7 | Alphard | 2016 | 2 | 130,000 | 260,000 |
| 8 | Vios | 2016 | 2 | 24,000 | 48,000 |
| 9 | Landcrusier (Truth Carrier) | 2016 | 2 | 20,100 | 40,200 |
| 10 | Aerols4- Tons | 2016 | 1 | 71,700 | 71,700 |
| 11 | Aerolus 2- Tons | 2016 | 1 | 16,000 | 16,000 |
| Total | | | 265 | | 8,003,900 |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅ (အ) /မ-၀၂၁/ ၂၀၁၇ (၀၈၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် မတ်လ ၆ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် သံလွင်ပညာရေးဝန်ဆောင်မှု ကုမ္ပဏီလီမိတက်မှ သံလွင်ပုဂ္ဂလိက အခြေခံပညာ အထက်တန်းကျောင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ သံလွင်ပညာရေး ဝန်ဆောင်မှုကုမ္ပဏီလီမိတက်မှ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ မြေတိုင်းရပ်ကွက်အမှတ်-၃ (ကွဲ့ကော်ရိပ်သာ-၂)၊ မြေကွက်အမှတ် ၁၈၃ မှ ၂၀၂ ရှိ မြေဧရိယာ ၂.၄၀၄ ဧက နှင့် မြေကွက်အမှတ် ၂၀၃ မှ ၂၄၂၊ ၂၄၃ ရှိ မြေဧရိယာ ၉.၃၄ ဧက စုစုပေါင်း မြေဧရိယာ ၁၁.၇၄၄ ဧကအား ငှားရမ်း၍ သံလွင်ပုဂ္ဂလိက အခြေခံပညာ အထက်တန်းကျောင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ သံလွင်ပညာရေး ဝန်ဆောင်မှုကုမ္ပဏီလီမိတက်နှင့် မြေပိုင်ရှင် ဦးတိုးနိုင်မန်း၊ ဦးခင်ရွှေတို့နှင့် ချုပ်ဆိုမည့် မြေငှားရမ်းခြင်းသဘောတူစာချုပ် (မူကြမ်း) (၂) စောင်၊ မြေပိုင်ဆိုင်မှုအထောက်အထားများ၊ ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ ဆောက်လုပ်မည့် စာသင်ကျောင်းအဆောက်အအုံပုံစံ နှင့် ဒီဇိုင်းတို့ကို ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုချက်နှင့်အတူ မြေဧရိယာ ၉.၃၄ ဧက အတွက် Than Lwin Education Services Co., Ltd. မှ ဒါရိုက်တာ ဦးမျိုးဝင်းညွန့် နှင့် မြေပိုင်ရှင် ဦးတိုးနိုင်မန်းတို့ ချုပ်ဆိုမည့် (၃၀) နှစ် သက်တမ်းရှိ မြေငှားရမ်းခြင်းစာချုပ် (မူကြမ်း)နှင့် မြေပိုင်ဆိုင်မှု အထောက်အထားများကို တင်ပြထားပြီး မြေငှားရမ်းခနှုန်းမှာ တစ်နှစ်လျှင် ကျပ် ၁၇၈.၅၉ သန်း (တစ်စတုရန်းမီတာလျှင် တစ်နှစ် ကျပ် ၄,၇၂၅) ဖြစ်ကြောင်း တင်ပြထားပါသည်။ ထို့အတူ မြေဧရိယာ ၂.၄၀၄ ဧက အတွက် Than Lwin Education Services Co., Ltd. မှ ဒါရိုက်တာ ဦးမျိုးဝင်းညွန့်နှင့် မြေပိုင်ရှင် ဦးခင်ရွှေတို့ ချုပ်ဆိုမည့် (၃၀) နှစ် သက်တမ်းရှိ မြေငှားရမ်းခြင်းစာချုပ် (မူကြမ်း)၊ မြေပိုင်ဆိုင်မှု အထောက်အထားများကို တင်ပြထားပြီး မြေငှားရမ်းခနှုန်းမှာ တစ်နှစ်လျှင် ကျပ် ၄၅.၉၇ သန်း (တစ်စတုရန်း မီတာလျှင် တစ်နှစ် ကျပ် ၄,၇၂၅) ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်၍ ပဏာမစူးစမ်းလေ့လာမှုအပြီးတွင် လုပ်ငန်းစတင်ဆောင်ရွက်မည် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ မတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁၀.၈၆ သန်း အပါအဝင် စုစုပေါင်းကျပ် ၁၉,၅၀၁.၇၇ သန်း ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ ၁၀.၈၆ သန်း တန်ဖိုးရှိ

လုပ်ငန်းသုံးပစ္စည်းများနှင့် လူစီးယာဉ်များအား ပြည်ပမှ တင်သွင်းမည်ဖြစ်ပြီး ရင်းနှီးမြှုပ်နှံမှုအခြေအနေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ်(သန်း) | US$(သန်း) | စုစုပေါင်းကျပ် (သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၅၀၀.၀၀ | - | ၅၀၀.၀၀ |
| (ခ) | စက်ပစ္စည်းကိရိယာ | - | ၀.၀၂ | ၂၈.၃၅ |
| (ဂ) | တည်ဆောက်ရေးသုံးပစ္စည်းများ | ၃,၅၂၅.၀၃ | ၂.၈၄ | ၇,၃၆၀.၅၆ |
| (ဃ) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | ၈၀၇.၅၉ | - | ၈၀၇.၅၉ |
| (င) | မော်တော်ကားများ | - | ၈.၀၀ | ၁၀,၈၀၅.၂၇ |
| | စုစုပေါင်း | ၄,၈၃၂.၆၂ | ၁၀.၈၆ | ၁၉,၅၀၀.၇၇ |

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်း(၂၁၂) ဦး ခန့်ထားဆောင်ရွက်မည်ဖြစ်၍ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ၊ အမြင့်ဆုံးလစာမှာ ကျပ် ၁,၅၀၀၀,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်း ခန့်ထားခြင်းမရှိပါ။

၇။ အဆိုပြုလုပ်ငန်းမှ ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်) တွင် ဝန်ဆောင်မှုပေးမည့် ခန့်မှန်းကျောင်းသားဦးရေနှင့် ဝန်ဆောင်ခနှုန်း (ကျပ်)တို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | အခန်း အရေအတွက် | ကျောင်းသား ဦးရေ (တစ်ခန်းလျှင်) | ဝန်ဆောင်ခနှုန်း (ကျပ်) |
|---|---|---|---|---|
| (က) | မူကြို | ၅ | ၄၀ | ၁၅၀,၀၀၀ |
| (က) | မူလတန်း | ၄၀ | ၄၀ | ၁၅၀,၀၀၀ |
| (ခ) | အလယ်တန်း | ၄၀ | ၄၀ | ၁၅၀,၀၀၀ |
| (ဂ) | အထက်တန်း | ၂၈ | ၄၀ | ၁၅၀,၀၀၀ |

၈။ အဆိုပြုလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ကုမ္ပဏီမှရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| | | ကျပ် (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၁၄,၈၀၆.၈၀ |
| (ခ) | အသုံးစရိတ် | ၉,၅၉၁.၂၃ |
| (ဂ) | အသားတင်အမြတ် | ၅,၂၁၅.၅၇ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ် ၁,၇၃၈.၅၂ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၅) နှစ် (၁၁) လ ဖြစ်၍ အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၂၀.၅၀ ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ တစ်ဖက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး** **(နောက်ဆက်တွဲ-က)**
သံလွင်ပညာရေး ဝန်ဆောင်မှုကုမ္ပဏီလီမိတက်မှ သံလွင်ပုဂ္ဂလိက အခြေခံပညာ အထက်တန်းကျောင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားခြင်းနှင့်ပတ်သက်၍ ၂၀၁၇ခုနှစ် ဖေဖော်ဝါရီလ ၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော အစည်းအဝေး အမှတ်စဉ် (၆/၂၀၁၇)၊ ဆုံးဖြတ်ချက် အပိုဒ် (၂၆) အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါ သည်။

(ခ) **ပညာရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**
ပညာရေးဝန်ကြီးဌာနအနေဖြင့် ကိုယ်ပိုင်အထက်တန်းကျောင်း ဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကိုယ်ပိုင်ကျောင်းမှတ်ပုံတင်ဥပဒေ၊ ကိုယ်ပိုင်ကျောင်းမှတ်ပုံတင်နည်း ဥပဒေများပါ အချက်များနှင့် ကိုက်ညီသည့်အတိုင်း ဆောင်ရွက်နိုင်ပါကြောင်းနှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်မှုဥပဒေနှင့်အညီ လျှောက်ထားခွင့်ပြုပါရန်နှင့် ပတ်သက်၍ သဘောထားမှတ်ချက်ပေးရန် မရှိပါကြောင်း ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ ပညာရေးဝန်ကြီးဌာနမှ သတ်မှတ်သော အခြေခံပညာ သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာများပါ ဘာသာရပ်များအတိုင်း လေ့ကျင့်သင်ကြားပေးမည်ဖြစ် ကြောင်းနှင့် ကိုယ်ပိုင်ကျောင်းမှတ်ပုံတင်ဥပဒေ၊ ကိုယ်ပိုင်ကျောင်း မှတ်ပုံတင်နည်း ဥပဒေတို့နှင့်အညီ လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။)**

(ဂ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဂ)**
အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာ ရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက် များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကို အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြ ထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂% ကို အသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာအကောင်အထည် ဖော်ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေ ရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ် ခြင်း (Initial Environmental Examination —IEE)** ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာ ရေးသားတင်ပြရန်၊ အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့် လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည့်တို့ ပါဝင်သည့် **ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-**

EMP)အား ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါအချက်အလက်များနှင့်အညီ အစီရင်ခံ ရေးသားတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊ **(ကုမ္ပဏီမှ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။)**

(ဃ) **ဆောက်လုပ်ရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ဃ)**

အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် စီမံကိန်းမြေနေရာများသည် မင်္ဂလာဒုံမြို့နယ်ရှိ မင်္ဂလာဒုံဥယျာဉ်စီမံကိန်းပါ လူနေအိမ်ခြေဧရိယာအတွင်း၌ ဆောင်ရွက်မည့်လုပ်ငန်းဖြစ်ပြီး အိမ်ရာပတ်ဝန်းကျင်ကို အထောက်အကူပြုမည့် ကျောင်းအဖွဲ့အစည်းအဖြစ် သုံးစွဲရန် သင့်လျော်မှုရှိခြင်း၊ လူမှုရေးလိုအပ်ချက်နှင့် ကိုက်ညီခြင်း၊ ပတ်ဝန်းကျင်အနှောက်အယှက်ဖြစ်စေသည့် လုပ်ငန်းအမျိုးအစား မဟုတ်ခြင်းတို့ကြောင့် ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

၁၁။ ငွေကြေးအထောက်အထားအဖြစ် United Amara Bank Limited (မြောက်ဥက္ကလာပဘဏ်ခွဲ)၌ ၁၂-၁-၂၀၁၇ ရက်နေ့တွင် သံလွင်ပညာရေး ဝန်ဆောင်မှုကုမ္ပဏီလီမိတက် အမည်ဖြင့် ကျပ် ၅၀၃,၄၃၇,၅၀၀ ရှိကြောင်း တင်ပြထားပါသည်။

၁၂။ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးအတွက် မီးသတ်ဆေးဘူးများ ထားရှိမည်ဖြစ်ပြီး၊ ဝန်ထမ်းများအား မီးဘေးအရေးပေါ် ကာကွယ်နိုင်ရန် အရေးအပေါ် မီးသတ်နည်းပညာများလေ့ကျင့်သင်ကြားပေးခြင်း ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်အစီအစဉ်၊ ဝန်ထမ်းများအတွက် လစာဝင်ငွေခွန် ပေးဆောင်မည့်အစီအစဉ်၊ လျှပ်စစ်ဓါတ်အားသုံးစွဲမှုအစီအမံတို့ကိုတင်ပြထားပြီး လူမှုဘဝသာယာဝပြောရေး (Corporate Social Responsibility -CSR)အတွက် အသားတင်အမြတ်၏ ၂ % အား ထည့်ဝင်ဆောင်ရွက်မည်ဖြစ်ဖြစ်ပြီး ပတ်ဝန်းကျင်ရှိ စာသင်ကျောင်းများအတွက် လိုအပ်သော အဆောက်အအုံ၊ စာသင်ခုံနှင့် သင်ထောက်ကူပစ္စည်းများ လှူဒါန်းဆောင်ရွက်ခြင်း၊ ရပ်ရွာနေပြည်သူများရေအသုံးစွဲမှု အဆင်ပြေစေရန်အတွက် သောက်သုံးရေအား ပေးဝေလှူဒါန်းခြင်းနှင့် ရပ်ရွာနေပြည်သူများ၏ ပညာရည်ထူးချွန်သော သားသမီးများအတွက် ပညာသင်ထောက်ပံ့ကြေးများ ပေးအပ်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၄။ အဆိုပြုလုပ်ငန်းအား အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၇ ခုနှစ် ဇန်နဝါရီ လ ၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော (၂/၂၀၁၇) အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

ကန့်သတ်

စိစစ်တင်ပြချက်

၁၅။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) မြေပိုင်ဆိုင်မှုနှင့်ပတ်သက်၍ (၆-၁-၂၀၁၅) ရက်စွဲဖြင့် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ မြို့ရွာနှင့်အိုးအိမ် ဖွံ့ဖြိုးရေးဦးစီးဌာနမှ ဇေကမ္ဘာ ကုမ္ပဏီလီမိတက်နှင့် ဦးတိုးနိုင်မန်းတို့အား ထုတ်ပေးထားသည့် (၃)နှစ် သက်တမ်းရှိ ဆောက်လုပ်နေထိုင်ခွင့် လက်မှတ်များကို တင်ပြထားပါသည်။

(ခ) ကုမ္ပဏီမှ မူလအဆိုပြုချက်ပါ မြေဧရိယာ (၁၀.၆၆၉) ဧကအား (၁.၀၇၅)ဧက ထပ်မံတိုးချဲ့၍ စုစုပေါင်း မြေဧရိယာ (၁၁.၇၄၄) ဧကတွင် အဆိုပြုလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

(ဂ) ကုမ္ပဏီသည် စာသင်ခန်းပေါင်း ၁၁၃ ခန်း ပါဝင်သော သုံးထပ် ကျောင်းဆောင် နှင့် နှစ်ထပ်ကျောင်းဆောင်များ တည်ဆောက်၍ KG တန်း၊ မူလတန်း၊ အလယ်တန်းနှင့် အထက်တန်း ကျောင်းသား ကျောင်းသူများအား ပညာသင်ကြားပေးမည်ဖြစ်ပြီး ဆောက်လုပ်မည့် ကျောင်းအဆောက်အအုံနှင့် ဒီဇိုင်းတို့အား တင်ပြထားပါသည်။

(ဃ) ကုမ္ပဏီသည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ကိုယ်ပိုင်ကျောင်းဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်ပြီး ပညာရေးဝန်ကြီးဌာနသို့ ကိုယ်ပိုင်ကျောင်းမှတ်ပုံတင်လက်မှတ်လျှောက်ထားရန် လိုအပ်ပါသည်။

(င) ပြည်ပမှ အောက်ဖော်ပြပါ အမေရိကန်ဒေါ်လာ(၈.၀၀) သန်း တန်ဖိုးရှိ လူစီးမော်တော်ယာဉ်များနှင့် အမေရိကန် ဒေါ်လာ (၂.၈၆) သန်း တန်ဖိုးရှိ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းဆောင်ရွက်မည်ဖြစ်ပြီး လူစီးမော်တော်ယာဉ်များအား အခွန်ပေးဆောင်တင်သွင်းရမည်ဖြစ်ပါသည်-

| No | Description | Model | Qty | Unit Cost US$ | Amount US$ |
|---|---|---|---|---|---|
| 1 | Hiace(High Roof) | 2016 | 100 | 34,000 | 3,400,000 |
| 2 | H 1 | 2016 | 100 | 27,600 | 2,760,000 |
| 3 | Fuso | 2016 | 50 | 22,000 | 1,100,000 |
| 4 | M 6 | 2016 | 2 | 37,000 | 74,000 |
| 5 | Hilux Revo (Double Cab) 4*4 | 2016 | 2 | 48,000 | 96,000 |
| 6 | Hilux Revo (Double Cab) 2*2 | 2016 | 3 | 46,000 | 138,000 |
| 7 | Alphard | 2016 | 2 | 130,000 | 260,000 |
| 8 | Vios | 2016 | 2 | 24,000 | 48,000 |
| 9 | Landcrusier (Truth Carrier) | 2016 | 2 | 20,100 | 40,200 |
| 10 | Aerols4- Tons | 2016 | 1 | 71,700 | 71,700 |
| 11 | Aerolus 2- Tons | 2016 | 1 | 16,000 | 16,000 |
| Total | | | 265 | | 8,003,900 |

(စ) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် အမိန့်ကြော်ငြာစာ(မူကြမ်း)တို့အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

ဆုံးဖြတ်ရန်အချက်

၁၆။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် သံလွင်ပညာရေးဝန်ဆောင်မှု ကုမ္ပဏီလီမိတက်မှ သံလွင်ပုဂ္ဂလိက အခြေခံပညာ အထက်တန်းကျောင်းလုပ်ငန်းအား အဆိုပြုချက်တင်ပြလာခြင်းကိစ္စ အပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ- က



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား

ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၁၄ ရက်

ကုမ္ပဏီ ၀၁၄၄ 17/2/17

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀. ၁. ၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ မ-၀၂၀/၂၀၁၇(၀၃၅-၈)

၁။ Than Lwin Education Services Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ကုံးကော်ရိပ်သာ-၂ ရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ်-၃၊ မြေကွက်အမှတ်-၁၈၈ မှ ၁၉၈ ရှိ မြေဧရိယာ ၁. ၃၂၉ ဧကနှင့် မြေကွက်အမှတ်-၂၀၃ မှ ၂၄၂၊ ၂၄၃ ရှိ မြေဧရိယာ ၉. ၃၄ ဧက စုစုပေါင်းမြေဧရိယာ ၁၀. ၆၆၉ ဧကအား ငှားရမ်း၍ သံလွင်ပုဂ္ဂလိက အခြေခံပညာအထက်တန်းကျောင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၈. ၂. ၂၀၁၇) ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၆/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၂၆)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)

( နော်ပန်းသဥ္ဇာမြိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး

ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

မင်္ဂလာဒုံမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန

Than Lwin Education Services Company Limited

လက်ခံစာတွဲ/မျှောစာတွဲ

/2017/Cabinet/6.(6)

နောက်ဆက်တွဲ- ခ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

# ပညာရေးဝန်ကြီးဌာန

# ဝန်ကြီးရုံး




စာအမှတ်၊ မူဝါဒ (သဘောထား)၂၅၉/၂၀၁၇( ၂၄၃၃ )

ရက်စွဲ ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၃)ရက်

MY.0124
17/2/17

√ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

P.737
16.2.17

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀-၁-၂၀၁၇) ရက်စွဲပါ စာအမှတ်၊ မရက-၅ (အ)/မ-၀၂၁/၂၀၁၇(၀၃၅-ခ)

၁။ အထက်ရည်ညွှန်းစာပါ Than Lwin Education Services Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ကုံကော်ရိပ်သာ - ၂ ရပ်ကွက်တွင် မြေဧရိယာ ၁၀.၆၆၉ ဧကအား ငှားရမ်း၍ သံလွင်ပုဂ္ဂလိက အခြေခံပညာအထက်တန်းကျောင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်နှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာန၏ "ကိုယ်ပိုင်ကျောင်းမှတ်ပုံတင်ဥပဒေ" နှင့် "ကိုယ်ပိုင်ကျောင်းမှတ်ပုံတင်နည်းဥပဒေများ" အရ စိစစ်ချက်များမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ကိုယ်ပိုင်ကျောင်းမှတ်ပုံတင်ဥပဒေ အခန်း(၁)၊ ပုဒ်မ ၂၊ ပုဒ်မခွဲ(က)အရ လျှောက်ထားသော ကျောင်းသည် ပညာရေးဝန်ကြီးဌာနက သတ်မှတ်ထားသော သင်ရိုးညွှန်းတမ်းနှင့်သင်ရိုးမာတိကာပါ ဘာသာရပ်များအား သင်ကြားမည့် ကျောင်းဖြစ်ပါက ကိုယ်ပိုင်ကျောင်း မှတ်ပုံတင်ဥပဒေအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(ခ) အခန်း(၃)၊ ပုဒ်မ ၇၊ ပုဒ်မခွဲ (ခ) (၁)အရ ကိုယ်ပိုင် ကျောင်းတည်ထောင်ဖွင့်လှစ်မည့် ပုဂ္ဂိုလ်သည် မြန်မာနိုင်ငံသား ဖြစ်ရမည်ဆိုသော အချက်နှင့် ကိုက်ညီမှုရှိ၍ ပုဒ်မ ၈ တွင် ပါရှိသော ကိုယ်ပိုင်ကျောင်း တည်ထောင်ဖွင့်လှစ်နိုင်ရန် အချက်များနှင့် ပြည့်စုံမှုရှိပါက အခန်း(၃)၊ ပုဒ်မ၉ အရ " ပုဒ်မ ၇ ပါအချက်များနှင့် ကိုက်ညီသော ပုဂ္ဂိုလ်သည် ပုဒ်မ ၈ပါလိုအပ်ချက်များနှင့် ပြည့်စုံသောကိုယ်ပိုင်ကျောင်း တည်ထောင်ဖွင့်လှစ်လိုပါက သက်ဆိုင်ရာ တိုင်းဒေသကြီး သို့မဟုတ် ပြည်နယ်ပညာရေးမှူးရုံးသို့ လျှောက်ထားရမည်"။

၂။ သို့ဖြစ်ပါ၍ ပညာရေးဝန်ကြီးဌာနအနေဖြင့် Than Lwin Education Services Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ကုံကော်ရိပ်သာ ၂ ရပ်ကွက်တွင် မြေဧရိယာ ၁၀.၆၆၉ ဧကအား ငှားရမ်း၍ သံလွင်ပုဂ္ဂလိကအခြေခံပညာအထက်တန်းကျောင်း လုပ်ငန်းအား ဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ အထက်အပိုဒ်(၁) အပိုဒ်ခွဲ(က)မှ (ခ)အထိ အချက်များနှင့် ကိုက်ညီသည့်အတိုင်း ဆောင်ရွက်နိုင်ပါကြောင်း နှင့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်နှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပေးရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၁၃/၂/၂၀၁၇

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ကျော်ဝင်း၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို -

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-၇




MY-0067
1/2/2017

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS) / ၀၁(၅၀/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၃၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Than Lwin Education Services Company Limited မှ သံလွင်ပုဂ္ဂလိက အခြေခံပညာအထက်တန်းကျောင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ သဘော ထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၁-၂၀၁၇ ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/ မ- ၀၂၀/ ၂၀၁၇(၀၃၅-ဃ)

၁။ Than Lwin Education Services Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ကုံ့ကော်ရိပ်သာ-၂ ရပ်ကွက်၊ မြေတိုင်းရပ်ကွက် အမှတ်- ၃၊ မြေကွက်အမှတ်- ၁၈၈ မှ ၁၉၈ ရှိ မြေဧရိယာ ၁.၃၂၉ ဧက နှင့် မြေကွက်အမှတ်- ၂၀၃ မှ ၂၄၂၊ ၂၄၃ ရှိ မြေဧရိယာ ၉.၃၄ ဧက၊ စုစုပေါင်း မြေဧရိယာ ၁၀.၆၆၉ ဧကအား ငှားရမ်း၍ သံလွင်ပုဂ္ဂလိက အခြေခံပညာအထက်တန်းကျောင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ နှစ် (၃၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

(ခ) သုံးထပ်အဆောက်အဦး၊ နှစ်ထပ်အဆောက်အဦး၊ ဘောလုံးကွင်း၊ တင်းနစ်ကွင်းအပါအဝင် သံလွင်ပုဂ္ဂလိက အခြေခံပညာ အထက်တန်းကျောင်း စာသင်ကျောင်း အဆောက်အဦများကို စုစုပေါင်း မြေဧရိယာ ၁၀.၆၆၉ ဧက (၄၃၂၈၇.၃၁၇ စတုရန်းမီတာ) ပေါ်တွင် ဆောက်လုပ်ပြီး စာသင်ကျောင်း ဖွင့်လှစ်သင်ကြားသွားမည် ဖြစ်ကြောင်း၊

(ဂ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်း ထားရှိဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း၊

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ်များ ရေးဆွဲရာတွင် အကြိုတည်ဆောက်မှုလုပ်ငန်းဆောင်ရွက်ခြင်း၊ တည်ဆောက်ခြင်း၊ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်း၊ လုပ်ငန်းရပ်စဲခြင်းနှင့် လုပ်ငန်းရပ်စဲပြီးကာလဟူ၍ လုပ်ငန်းအဆင့်အသီးသီးပါဝင်သော ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှု အစီအစဉ် (EMP) ကို သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ချမှတ်ထားသော သတ်မှတ်ချက်များကို အခြေခံ၍ ပြုစုပေးပို့တင်ပြသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Than Lwin Education Services Company Limited မှ သံလွင်ပုဂ္ဂလိက အခြေခံပညာအထက်တန်းကျောင်းလုပ်ငန်းကို ဆောင်ရွက်ရာတွင် အဆောက်အဦ တည်ဆောက်ခြင်း လုပ်ငန်းများဆောင်ရွက်ရာ၌ မြေသားများ ပြုပြင်ဖော်ထုတ်ခြင်းကြောင့် ထွက်ရှိလာသည့် အမှုန်အမွှား များ၊ ဖုန်မှုန့်များကြောင့် လေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) လုပ်ငန်း သုံးစက်နှင့် ယာဉ်ယန္တရားများ၏ ဆူညံသံများကြောင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဂ) ယာဉ်ယန္တရားများမှ အမဲဆီ၊ လောင်စာဆီ၊ Engine Oil စက်ကျဆီစသည့် ကုန်ကြမ်းဆီများ၊ စွန့်ပစ်အဆီ/ အရည်/ အစိုင်အခဲများကြောင့် ပတ်ဝန်းကျင်မြေထု၊ ရေထု ညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊ စက်ဆီ၊ ချောဆီနှင့် ဆက်စပ်ပစ္စည်းများ မတော်တဆယိုဖိတ်နိုင်မှုများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု၊ မီးဘေးအန္တရာယ်ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဃ) စာသင်ကျောင်းလုပ်ငန်း လည်ပတ်ချိန်၌ စာသင်အခန်းများမှ ထွက်ရှိလာမည့် စွန့်ပစ်ရေဆိုး၊ မိလ္လာရေဆိုးများအား စနစ်တကျစွန့်ပစ်ခြင်းမပြုဘဲ ပတ်ဝန်းကျင်ရှိ မြစ်/ ချောင်း/ အိုင်များအတွင်းသို့ တိုက်ရိုက်စွန့်ပစ်ပါက မြေထုနှင့်ရေထုညစ်ညမ်းနိုင်ခြင်း၊

(င) ကျောင်းဈေးဆိုင်ခန်းများ၊ စားသောက်ခန်း၊ စာသင်ခန်း၊ မီးဖိုဆောင်မှထွက်ရှိလာမည့် အစားအသောက် အညစ်အကြေးများ၊ ပတ်ဝန်းကျင်တွင် ဆွေးမြေ့ရန်အချိန်ကြာမြင့်သည့် ပလတ်စတစ်နှင့် ကျွတ်ကျွတ်အိတ်ကဲ့သို့ အမှိုက်များအား စနစ်တကျမစွန့်ပစ်ခြင်းကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုများ ဖြစ်ပေါ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Than Lwin Education Services Company Limited မှ သံလွင်ပုဂ္ဂလိက အခြေခံပညာ အထက်တန်းကျောင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကိုအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE)** ကို ဆောင်ရွက်ပြီးပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) စီမံကိန်း ဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့်

လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရန်၊

( c) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက် မည့် နေရာဒေသတွင် နေထိုင်သောဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများ ကိုလည်း ရယူဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ- ဃ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေးဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၂၁ / ဌာနခွဲ - ၂/MIC/၂၀၁၇ (စီ ၂၃၀)
ရက် စွဲ ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၁၇ ရက်

NPT-704
20.2.17

MY-0129
21/2/17

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ(၂၀)ရက်နေ့စွဲပါ စာအမှတ်၊မရက-၅(အ)/မ-၀၂၁/၂၀၁၇(၀၃၅-က)

၁။ Than Lwin Education Services Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ် ၊ ကုံကော်ရိပ်သာ-၂ ရပ်ကွက် ၊ မြေတိုင်းရပ်ကွက်အမှတ်-၃၊ မြေကွက်အမှတ်(၁၈၈ မှ ၁၉၈) ရှိ မြေဧရိယာ (၁.၃၂၉) ဧကနှင့် မြေကွက်အမှတ်(၂၀၃ မှ ၂၄၂၂၄၃)ရှိ မြေဧရိယာ(၉.၃၄)ဧက၊ စုစုပေါင်းမြေဧရိယာ(၁၀.၆၆၉)ဧကအား ငှားရမ်း၍ သံလွင်ပုဂ္ဂလိက အခြေခံပညာ အထက်တန်းကျောင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါ စာဖြင့် အကြောင်းကြားလာပါသည် ။

၂။ အဆိုပါ စီမံကိန်းမြေနေရာများသည် မင်္ဂလာဒုံမြို့နယ်ရှိ မင်္ဂလာဒုံဥယျာဉ် စီမံကိန်းပါ လူနေအိမ်ခြေ ဧရိယာအတွင်း၌ ဆောင်ရွက်မည့်လုပ်ငန်းဖြစ်ပြီး အိမ်ရာပတ်ဝန်းကျင်ကို အထောက်အကူပြုမည့် ကျောင်းအဖွဲ့အစည်းအဖြစ် သုံးစွဲရန် သင့်လျော်မှုရှိခြင်း ၊ လူမှုရေးလိုအပ်ချက်နှင့် ကိုက်ညီခြင်း ၊ ပတ်ဝန်းကျင် အနှောက်အယှက်ဖြစ်စေသည့် လုပ်ငန်းအမျိုးအစား မဟုတ်ခြင်းတို့ကြောင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက်အား ပြန်ကြားအပ်ပါသည် ။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(ကျော်လင်း ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

- ညွှန်ကြားရေးမှူးချုပ်၊ မြို့ပြနှင့်အိမ်ရာဖွံ့ဖြိုးရေးဦးစီးဌာန။

## ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | သံလွင်ပညာရေး ဝန်ဆောင်မှု ကုမ္ပဏီလီမိတက် (Than Lwin Education Services Company Limited) | (၁) ဦးတိုးနိုင်မန်း မန်နေဂျင်းဒါရိုက်တာ ၇/သကန (နိုင်) ၀၇၈၈၄၇ | အမှတ် က/၂၊ ထန်းဥယျာဉ်ရိပ်မွန်၊ မင်းဓမ္မလမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| | | (၂) ဦးမျိုးဝင်းညွန့် ဒါရိုက်တာ ၁/ခဘဒ (နိုင်) ၀၀၀၀၄၁ | အမှတ်၊ ၄၆/၀၀၃၊ ရွှေဘိုလမ်း၊ အောင်ဇေယျာအိမ်ယာ၊ ဒဂုံမြို့သစ် မြောက်ပိုင်းမြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး။ |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ် - ၀၉-၄၀၂၇၇၀၀၆၆

၂။ဆက်သွယ်ရမည့်လိပ်စာအပြည့်အစုံ - အမှတ်က/၂ထန်းဥယျာဉ်ရိပ်မွန်၊ မင်းဓမ္မလမ်း၊မရမ်းကုန်းမြို့နယ်၊ရန်ကုန်တိုင်းဒေသကြီး။

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ ရာထူး - ဦးတိုးနိုင်မန်း (မန်နေဂျင်းဒါရိုက်တာ)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - သံလွင်ပုဂ္ဂလိက အခြေခံပညာ အထက်တန်းကျောင်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ - ၁၀၅၂/၂၀၀၆-၂၀၀၇ (နပတ)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - ၈-၉-၂၀၂၁

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် - -